**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၃/ခ-၀၆၅/၂၀၂၀( ၀၆၆၈ )

ရက်စွဲ၊၂၀၂၀ပြည့်နှစ် ဖေဖော်ဝါရီလ ၂၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းမြို့နယ်တွင် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Dongfeng Motor Corporation Limited မှ မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးအေးမင်းထွန်းမှ ၅၀%၊ ဒေါ်စန်းဌေးမှ ၃၀%၊ ဦးကျော်ဇင်ခန့်အောင်မှ ၁၀% နှင့် ဒေါ်နှင်းဖြူဖွေးမှ ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Dongfeng Motor Corporation Limited မှ မြေကွက်အမှတ်-၁၄၇၊ မြေတိုင်းရပ်ကွက်အမှတ်- သီလဝါစက်မှုဇုန်၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၉၃၂ ဧက (၇၈၁၈.၅၃ စတုရန်းမီတာ)တွင် မော်တော်ယာဉ်တပ်ဆင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားများ၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ China Dongfeng Motor Industry Import & Export Co., Ltd. နှင့် Dongfeng Motor Corporation Limited တို့ချုပ်ဆိုထားသည့် **Cooperation Agreement ၊ Dongfeng Fengxing Brand** ဖြင့် T5 Model အမျိုးအစားထုတ်လုပ်မည့် **Certificate for China Compulsory Product Certification**၊ ထုတ်လုပ်မည့် မော်တော်ယာဉ်များ၏ **Inspection Report**၊ Brand အသုံးပြုခွင့်၊ နည်းပညာ အသုံးပြုခွင့်နှင့် SKD စနစ်ဖြင့် တပ်ဆင်ခွင့်ပေးထားသည့် Authorization Letter များအား တင်ပြထားပါသည်။ တင်သွင်းမည့်စက်ပစ္စည်းများ၏ ဓာတ်ပုံများ၊ ထုတ်လုပ်မည့် မော်တော်ယာဉ် နမူနာပုံများနှင့် ထုတ်လုပ်မှုနည်းစဉ်နှင့် ထုတ်လုပ်မည့်မော်တော်ယာဉ်အမျိုးအစားတစ်မျိုးချင်း၏ **Specification** များအားတင်ပြထားပါသည်။

၃။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်၊ တည်ဆောက်ရေးကာလမှာ ၁ နှစ်နှင့် စုစုပေါင်းမတည်ငွေရင်းပမာဏမှာ **ကျပ် ၁၂,၅၄၅.၃၃၅ သန်း (US$ ၂.၈၄၆သန်း အပါအဝင်)** ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| | (ကျပ်သန်း) | |
|---|---|---|
| ငွေသား | ၆,၂၆၆.၉၅၀ | |
| စက်နှင့်စက်ပစ္စည်းစာရင်း (ပြည်ပ) | ၇၁၉.၈၅၀ | (US$၀.၄၇၉သန်း) |
| စက်ပစ္စည်းကိရိယာစာရင်း (ပြည်ပ) | ၂,၆၅၀.၃၃၅ | (US$၁.၇၆၇သန်း) |

**ကန့်သတ်**

| | | |
|---|---|---|
| အဆောက်အဦတန်ဖိုး (ပြည်တွင်း) | ၆၉၅.၀၀၀ | |
| ရုံးလုပ်ငန်းသုံးပရိဘောဂစာရင်း(ပြည်တွင်း) | ၆၃.၂၀၀ | |
| မော်တော်ယာဉ်(ပြည်တွင်း) | ၆၀၀.၀၀၀ | |
| မော်တော်ယာဉ်(ပြည်ပ) | ၉၀၀.၀၀၀ | (US$၀.၆၀၀သန်း) |
| မြေ | ၆၅၀.၀၀၀ | |
| **စုစုပေါင်း** | **၁၂,၅၄၅.၃၃၅** | **(US$ ၂.၈၄၆သန်း အပါအဝင်)** |

၄။ ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၉၃ ဦး နှင့် ပြည်ပ ဝန်ထမ်း ၁၀ ဦး ခန့်အပ်မည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၂၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၃၀၀၀ ဖြစ်ပါသည်။

၅။ မော်တော်ယာဉ်များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှု အရေအတွက်နှင့်ရောင်းဈေးနှုန်းများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| **အမျိုးအမည်** | **ရောင်းချမှုအရေအတွက်** | **ရောင်းဈေးနှုန်း** |
|---|---|---|
| Dongfeng Fengxing T5 Elegant | ၄၀၀ စီး | US$ ၂၃၃၀၀ |
| Dongfeng Fengxing T5 Noble | ၃၀၀ စီး | US$ ၂၄၇၀၀ |
| Dongfeng Fengxing T5 Luxury | ၃၀၀ စီး | US$ ၂၆၀၀၀ |

၆။ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(EMP) အစီရင်ခံစာရေးဆွဲဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

၇။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ စီးပွားရေးနှင့်ကူးသန်း ရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်း၊ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာနများမှ **ကန့်ကွက်ရန်မရှိကြောင်း** သဘောထားပြန်ကြားပြီးဖြစ်ပါသည်။ **ကုမ္ပဏီမှ ဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက် များနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။** **နောက်ဆက်တွဲ(ခ)**

၈။ ငွေကြေးအထောက်အထားအဖြစ် ရင်းနှီးမြှုပ်နှံသူ ဦးအေးမင်းထွန်းအမည်ဖြင့် ရိုးမဘဏ်တွင် ၂၃-၁၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၁,၀၂၂,၆၄၇,၂၅၅.၁၈ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေး၊ မီးဘေး ကြိုတင်ကာကွယ်ရေး နှင့် Corporate Social Responsibility(CSR)အစီအစဉ်များတင်ပြထားပါသည်။

(ဂ) SKD-2 စနစ်ပါ ပစ္စည်းအုပ်စု(၁၀)မျိုးဖြင့် ထုတ်လုပ်မည် ဖြစ်ပါကြောင်းနှင့်စတုတ္ထ နှစ်မှစတင်၍ ပြည်တွင်းကုန်ကြမ်းများအား အသုံးပြုမည်ဖြစ်ပြီး ၁၀နှစ်မြောက် တွင် ၆၀% ခန့် အသုံးပြုမည်ဖြစ်ပါသည်။

(ဃ) တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ China Dongfeng Motor Industry Import & Export Co., Ltd. နှင့် Dongfeng Motor Corporation Limited တို့ချုပ်ဆို ထားသည့် **Cooperation Agreement ၊ Dongfeng Fengxing Brand** ဖြင့် T5 Model အမျိုးအစားထုတ်လုပ်မည့် **Certificate for China Compulsory Product Certification** နှင့်ထုတ်လုပ်မည့် မော်တော်ယာဉ်၏ **Inspection Report** များ **တင်ပြထားပါသည်။**

(င) Dongfeng T5 Test Drive Car (၁၀)စီးနှင့် Car Carrier Trailer Truck (10 Tons) (၅)စီး စုစုပေါင်းတန်ဖိုး အမေရိကန် ၀.၆၀၀ သန်းအား အခွန်ပေးဆောင်၍ တင်သွင်းမည်ဖြစ်ပါသည်။

(စ) **T5 Model (၁) မျိုးတည်းဖြင့် T5 Elegant, T5 Noble,T5 Luxury Grade (၃)မျိုးခွဲ၍ ထုတ်လုပ်မည်ဖြစ်ပါသည်။**

**ဆုံးဖြတ်ရန်အချက်**

၁၀။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းမြို့နယ်တွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Dongfeng Motor Corporation Limited မှ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(သန့်စင်လွင်၊အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန
## ဝန်ကြီးရုံး

MPY-0468
6-2-2020

စာအမှတ်၊ စဘစ / စက်မှု -၂ / ၁၅ (၃၅၀/၂၀၂၀)
ရက် စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.0159
10/2/2020

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈.၁.၂၀၂၀ ရက်စွဲပါ စာအမှတ်၊ မရက- ၃ / ခ - ၀၆၅ / ၂၀၂၀ ( ၀၃၂ )

၁။ Dongfeng Motor Corporation Limited. မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင် - ကျောက်တန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-သီလဝါစက်မှုဇုန်၊ မြေကွက်အမှတ်(၁၄၇)ရှိ မြေဧရိယာ(၁.၉၃၂)ဧက (၇၈၁၈.၅၃ စတုရန်းမီတာ)တွင် SKD စနစ်ဖြင့် မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းအပေါ် အဆိုပါလုပ်ငန်းတွင် အသုံးပြုမည့်ကုန်ကြမ်းများနှင့် တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီခြင်းရှိ/မရှိ၊ လုပ်ငန်းလည်ပတ်ရန် သင့်လျော်သည့် စက်ပစ္စည်းအမျိုးအစား၊ အရေအတွက်နှင့် ကိုက်ညီမှုရှိ/မရှိ၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်နှင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သင့်-မသင့်စသည့်အချက်များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကုမ္ပဏီသည် တရုတ်နိုင်ငံ၊ Wuhan Economic & Tech Development Zon ရှိ China Dongfeng Motor Industry Import & Export Co.,Ltd နှင့် Cooperation Agreement ချုပ်ဆိုထားပြီ၊ Dongfeng အမှတ်တံဆိပ်ဖြင့် Dongfeng SUV T5 model (1.5 T Elegant, 1.5 T Noble နှင့် 1.5 T Luxury) မော်တော်ယာဉ်အမျိုးအစား(၃)မျိုးကို SKD 2 စနစ်ဖြင့် တပ်ဆင်ထုတ်လုပ်သွားမည် ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း ရင်းနှီးမြှုပ်နှံမှု USD ( ၂.၈၅ )သန်းအပါအဝင် ကျပ်သန်း (၁၂,၅၄၅.၃၄)တွင် စက်ပစ္စည်း(၂၇%)နှင့် ယာဉ်ယန္တရား ( ၁၂% ) အား USD (၂.၈၅) သန်း သုံးစွဲဆောင်ရွက်မည်ဖြစ်ပြီး၊ Machinery & Equipment စာရင်းတွင် ပါဝင်သည့် Production Testing Facilities, Material Handling Equipment, Tools & Accessories နှင့် Vehicles များ၊ Tools & Equipment စာရင်းတွင် ပါဝင်သည့် Shower Test, Road Test, Compressed air Line, Paint Oven, Paint Mixer, Structure Line နှင့် Tester & Tool များသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီမှုရှိပါသည်။

(ဂ) အဆိုပြုမှုအရ SKD 2စနစ်ဖြင့်(၃)နှစ် တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပြီး၊ စတုတ္ထနှစ်မှစတင်၍ တာယာနှင့် Wheel Assembly အား ပြည်တွင်းတွင် ဝယ်ယူအသုံးပြု၍ ပဥ္စမနှစ်တွင် Body, Roof, Floor, Door, Welding တို့၏ Assembly နှင့် Final Painting များ၊ နောက်ပိုင်းတွင် Suspension, Rubber Bush, Glass, Lamp, Seat, Plastic Parts များ စသည်ဖြင့် နှစ်စဉ်တိုးချဲ့ ထုတ်လုပ်၍လည်းကောင်း၊ ဝယ်ယူသုံးစွဲ၍လည်းကောင်း အသုံးပြုမည်ဟု ဖော်ပြထားသဖြင့် ပဥ္စမနှစ် နောက်ပိုင်းတွင် ဆေးသုတ်မထားသည့် ကိုယ်ထည်( White Body )အား ပြည်တွင်း၌ ထုတ်လုပ်မည်ဖြစ်၍ အသေးစိတ်အစီအမံများ တင်ပြရန် လိုအပ်မည် ဖြစ်ပါသည်။

(ဃ) မြန်မာနိုင်ငံမော်တော်ယာဉ် ထုတ်လုပ်မှုဆိုင်ရာမူဝါဒ( Automotive Policy )နှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။

(င) နည်းပညာရရှိမှုနှင့် CKD အထိ မြှော်မှန်းဆောင်ရွက်မည့်အစီအစဉ်များနှင့် ကာလရှည်အတွက် ရည်ရွယ်ဆောင်ရွက်သွားရန် လိုအပ်မည် ဖြစ်ပါသည်။

(စ) ယခုထုတ်လုပ်မည့် မော်တော်ယာဉ်များသည် နိုင်ငံတွင်း လိုအပ်ချက်များနှင့် ကိုက်ညီ၍ နည်းပညာအဆင့်မီ ဘေးကင်းလုံခြုံမှုရှိစေရေး အဓိကထားဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး၊ မူရင်းကုမ္ပဏီ၏ ဒီဇိုင်းနှင့် အရည်အသွေးများအတိုင်း အာမခံရန်၊ သတ်မှတ်စံနှုန်းနှင့် ကိုက်ညီသည့် ကုန်ကြမ်းပစ္စည်းများဖြစ်စေရေး တာဝန်ယူဆောင် ရွက်ရမည် ဖြစ်ပါသည်။

(ဆ) Testing and Quality Control စနစ် တိတိကျကျ စိစစ်၍ ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။

၃။ သို့ပါ၍ Dongfeng Motor Corporation Limited. မှ Dongfeng အမှတ်တံဆိပ်ဖြင့် T5 Model အား SKD စနစ်ဖြင့် မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ နိုင်ငံအတွင်း လိုက်နာရန် သတ်မှတ်ဆောင်ရွက်ရမည့် မူဝါဒများနှင့်ကိုက်ညီရန် လိုအပ်ပါကြောင်းနှင့် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း
ရုံးလက်ခံ
မျှောစာတွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၂၀( ၃၅၄ )

ရက် စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

M.0140
5/2/2020

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၂၀ ပြည့်နှစ်၊ ဇန်နဝါရီလ (၁၈) ရက်စွဲပါ စာအမှတ်၊ မရက- ၃/ခ- ၀၆၅ / ၂၀၂၀ (၀၃၁)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်- သီလဝါ စက်မှုဇုန်၊ မြေကွက်အမှတ်- ၁၄၇၊ မြေဧရိယာ (၁.၉၃၂) ဧက (၇၈၁၈.၅၃ စတုရန်းမီတာ) တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် Dongfeng Motor Corporation Limited က လျှောက်ထားလာမှုအပေါ် အဆိုပါလုပ်ငန်းတွင် အသုံးပြုမည့် ကုန်ကြမ်းများနှင့် တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီခြင်း ရှိ/ မရှိ၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်နှင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သင့်/ မသင့်စသည့်အချက်များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာခြင်းကိစ္စ ဖြစ်ပါသည်။

၂။ Dongfeng Motor Corporation Limited ၏ အဆိုပြုတင်ပြချက်တွင် Dongfeng T5 Model SUV ယာဉ်ကို Grade (၃) မျိုးဖြင့် ထုတ်လုပ်မည်ဖြစ်ကြောင်း၊ ယာဉ်ထုတ်လုပ်ခြင်းအတွက် တရုတ်နိုင်ငံမှ တင်သွင်းမည့် စက်ပစ္စည်းအစိတ်အပိုင်း (၁၀) မျိုးစာရင်း၊ ထုတ်လုပ်မည့် မော်တော်ယာဉ်၏ Specification အချက်အလက်များ၊ China Dongfeng Motor Industry Import & Export Co.,Ltd ၏ T5 Automobile Certificate၊ China Quality Certification Centre (CQC) ၏ Product Certificate နှင့် Inspection Report မိတ္တူများ ပူးတွဲဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ ပြည်တွင်းကုမ္ပဏီများက SKD စနစ်ဖြင့် မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ရာတွင် အောက်ဖော်ပြပါအချက်များကို လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်-

(က) ASEAN Motor Vehicle Requirement Standard ၊

(ခ) မြန်မာနိုင်ငံသည် လက်ယာကပ်မောင်းစနစ် ကျင့်သုံးပါသဖြင့် Road Safety ဖြစ်စေရန် ယာဉ်ကြောစနစ်နှင့် လိုက်လျောညီထွေဖြစ်စေမည့် လက်ဝဲဘက်စတီယာရင်မောင်းစနစ် (Left Hand Drive) ယာဉ်များသာ ထုတ်လုပ်ရန်၊

(ဂ) ထုတ်လုပ်မည့် မော်တော်ယာဉ်၏ အမျိုးအမည်၊ အမျိုးအစားအတွက် ပုံစံအတည်ပြု သတ်မှတ်ရရှိပြီးဖြစ်ရမည်။ ထုတ်လုပ်မည့် မော်တော်ယာဉ်နှင့်ပတ်သက်သည့် Specification များပြည့်စုံစွာ ဖော်ပြရန်၊

(ဃ) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာ မောင်းနှင် အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ် စမ်းသပ်စစ်ဆေးသည့် အလုပ်ရုံ (Vehicle Testing Workshop) တွင်ရှိသော Test Lane ဖြင့် ယာဉ်ကြံ့ခိုင်မှု စစ်ဆေးပြီး အောင်မြင်သည့်ယာဉ်များကိုသာ ဈေးကွက်အတွင်းသို့ ဖြန့်ဖြူးရောင်းချရန်။

၃။ ပြည်တွင်းတွင် SKD စနစ်ဖြင့် ထုတ်လုပ်သည့် မော်တော်ယာဉ်များကို စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာနက ထုတ်ပေးသည့် Certificate of Approval (CoA) ဖြင့် ကနဦးမှတ်ပုံတင်ဆောင်ရွက်ပေးရန်နှင့် အစီး (၁၀၀) ပြည့်မြောက်ပြီးနောက် ပုံမှန်ဆက်လက် ထုတ်ပေးသည့် မော်တော်ယာဉ်များကို သက်ဆိုင်ရာကုမ္ပဏီ၏ Inspection Certificate (IC) ဖြင့်သာ ဆက်လက်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၄။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနအနေဖြင့် SKD စနစ်ဖြင့် ထုတ်လုပ်သည့် မော်တော်ယာဉ်များ ကနဦးမှတ်ပုံတင်လုပ်ငန်းဆောင်ရွက်ပါက အောက်ပါ အထောက်အထားများကို ရယူစိစစ်လျက်ရှိပါသည်-

(က) Letter of Authorization From Origin Co., Ltd

(ခ) QC would be Signed by Origin Co., Ltd

(ဂ) Both Our Inspectors (Engineers)

(ဃ) Vehicle Identification (VIN Plate)

၅။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ၏ မော်တော်ယာဉ်ထုတ်လုပ်မှုကဏ္ဍသည် ပြည်တွင်းတွင် မော်တော်ယာဉ် (၁) စီး ပြည့်စုံစွာ ထုတ်လုပ်နိုင်သည့် အဆင့်မဟုတ်ဘဲ ပြည်ပတွင် ထုတ်လုပ်ပြီးဖြစ်သည့် မော်တော်ယာဉ်အစိတ်အပိုင်းများကို မှာယူတင်သွင်း၍ ပြန်လည်တပ်ဆင်သည့် SKD စနစ်သာ ဖြစ်နေသေးခြင်း၊ မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းများကို ပုဂ္ဂလိကကဏ္ဍမှ စတင်ဆောင်ရွက်နေသည်မှာ မကြာမြင့်သေးခြင်းများကြောင့် ပြည်တွင်းတွင် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းကို ဦးဆောင်ပြုလုပ်လျက်ရှိပြီး လက်ရှိတွင် SKD စနစ်ဖြင့် ထုတ်လုပ်ထားသော ယာဉ်များအတွက် Certificate of Approval (CoA)

ထုတ်ပေးလျက်ရှိသည့် စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန၏ ထောက်ခံချက်များနှင့် အကြံပြုချက်များကို အခြေခံ၍စဉ်းစားလုပ်ဆောင်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

ဝင်းခန့်၊ အမြဲတမ်းအတွင်းဝန်

မိတ္တူကို

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

DR 178/10.2



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ် ၊ စက - ၁၄/ ၄ - ၁၂ / ၂၀၂၀ ( ၁၅ )
ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၆ ရက်

MIPY-0504
7-2-2020

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

17.0173
13/2/2020

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈- ၁- ၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက - ၃/ ခ - ၀၆၅/ ၂၀၂၀ (၀၃၃)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆ - ၁၁ - ၂၀၁၇ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၈၅/ ၂၀၁၇

၁။ Dongfeng Motor Corporation Limited မှ မြေကွက် အမှတ်-၁၄၇၊ မြေတိုင်းရပ်ကွက် အမှတ်-သီလဝါစက်မှုဇုန်၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၉၃၂ ဧက(၇၈၁၈.၅၃ စတုရန်းမီတာ)တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းအတွက် အဆိုပြုချက်တင်ပြထားရာ လုပ်ငန်းအတွက်တင်ပြထားသည့် ကုန်ကြမ်းများတင်သွင်း ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါ(၁) စာဖြင့် အကြောင်းကြားလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း (၂) ပါအမိန့်ကြော်ငြာစာဖြင့် SKD-2 စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် တင်သွင်းထုတ်လုပ်ခွင့်ပြုမည့် မော်တော်ယာဉ်ကုန်ကြမ်းပစ္စည်း အစိတ်အပိုင်း(၁၀)မျိုးကို သတ်မှတ်ထုတ်ပြန်ထားရာ ကုမ္ပဏီမှ ထုတ်လုပ်မည့်မော်တော်ယာဉ်များအတွက် ပြည်ပမှတင်သွင်းမည့် အဓိကကုန်ကြမ်းများသည် သတ်မှတ်ချက်များနှင့်ကိုက်ညီကြောင်း စိစစ်တွေ့ရှိရပြီး မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ခြင်း လုပ်ငန်းနှင့် ဆက်စပ်အသုံးပြုမည့်အခြားကုန်ကြမ်းပစ္စည်းများမှာလည်းလုပ်ငန်းသဘောသဘာဝနှင့်ကိုက်ညီကြောင်း တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Dongfeng Motor Corporation Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်တင်သွင်းမည့်ကုန်ကြမ်းပစ္စည်းများအပေါ်ကန့်ကွက်ရန်မရှိပါကြောင်း၊ ပြည်ပမှကုန်ပစ္စည်းများတင်သွင်းရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပြန်ထားသော မော်တော်ယာဉ် အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် SKD-2 စနစ်ဖြင့် ဆောင်ရွက်ရန်ကြေညာသည့် အမိန့်ကြော်ငြာစာ ၈၅/၂၀၁၇ နှင့်ကိုက်ညီစေရန်လိုအပ်မည်ဖြစ်ပြီး ယင်းသတ်မှတ်ချက်အတိုင်းလိုက်နာ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်းနှင့် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီး

ဌာနအနေဖြင့် သတ်မှတ်ထုတ်ပြန်ထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပူးပေါင်းပါဝင်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( )
( အောင်စိုး ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန



M.0100
28/11/2020

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁( ၅/၂၀၂၀)
ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ ဇန်နဝါရီလ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Dongfeng Motor Corporation Limited မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၁-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက-၃/ ခ-၀၆၅/ ၂၀၂၀(၀၂၄)

၁။ မြန်မာနိုင်ငံသား ဦးအေးမင်းထွန်းမှ ၅၀%၊ ဒေါ်စန်းငွေးမှ ၃၀%၊ ဦးကျော်ဇင်ခန့်အောင်မှ ၁၀% နှင့် ဒေါ်နှင်းဖြူဖွေးမှ ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Dongfeng Motor Corporation Limited မှ မြေကွက်အမှတ်- ၁၄၇၊ မြေတိုင်းရပ်ကွက်အမှတ်- သီလဝါစက်မှုဇုန်၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၉၃၂ ဧက (၇၈၁၈.၅၃ စတုရန်းမီတာ) တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသောရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ ((၇၈၁၈.၅၃ စတုရန်း မီတာ) တွင် (၂၆၀ပေx၁၉၀ပေ) ရှိ စက်ရုံအဆောက်အဦ (၁) လုံး၊ ၆၀×၅၀ ရုံးခန်း (၁) လုံးနှင့် လိုအပ်သော အဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့်ပထမနှစ်တွင်လူစီးမော်တော်ယာဉ် (၁၀၀၀) ပြည်တွင်း၌ တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပြီးဈေးကွက်အပေါ်မူတည်၍ ထုတ်လုပ်မှုတိုးမြှင့်မည်ဖြစ်ကာ (၁၀) နှစ်အတွင်း အစီးရေ (၁၂၀၀) အထိ ထုတ်လုပ်ရောင်းချရန် ရည်ရွယ်ပါကြောင်း၊

(ဃ) လုပ်ငန်းမှနှစ်စဉ်ရေဂါလံ (၃၀၉၀၀၀) ခန့်အားအသုံးပြုကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန မှထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက် များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက် မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Dongfeng Motor Corporation Limited မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် အတွက် အဆောက်အဦများ ပြုပြင်တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ် ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာ မည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရား များမှထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊မြေထုနှင့် ရေထုညစ်ညမ်း မှုဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက် ယန္တရားများ၏ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ် ပေါ်စေနိုင်ခြင်း၊

(ဂ) အလုပ်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/အစိုင်အခဲများနှင့် ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်း စေနိုင်ခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှု မရှိခြင်း ကြောင့်မြေအောက်ရေအရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(င) လုပ်ငန်းဆောင်ရွက်ရာတွင် ဂဟေဆော်ခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာ မည့် အခိုး၊ အငွေ့၊ အနံ့အသက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင်လုပ်သားများတွင် မျက်စေ့ နှင့် အသက်ရှုလမ်းကြောင်းဆိုင်ရာ ရောဂါများ ဖြစ်ပွားစေနိုင်ပြီး ပတ်ဝန်းကျင်ရှိ ပြည်သူ လူထုကို အနှောင့်အယှက် ဖြစ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာ များ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Dongfeng Motor Corporation Limited မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန်အတွက် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါ အတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ် စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး ဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အ

သားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment–EIA)**ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment–EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan–EMP)** ကိုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့်လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



ဝ၅၁.၃ 1
11/2/20

ပြည် တွင်း အ ခွန် များ ဦး စီး ဌာ န
အလယ် အလတ်အခွန်ထမ်းများဆိုင်ရာ အခွန်ရုံး ( ၄ )
အမှတ်(၄၉)၊မြေတိုင်း(၈၅/ကံဘဲ့)၊စိမ်းလဲ့မေလမ်းသွယ်
ကမ္ဘာအေးဘုရားလမ်း ၊ ရန်ကင်းမြို့နယ်၊ ရန်ကုန် ။

Internal Revenue Department
Medium Taxpayer Office(4)Medium Taxpayer Office(4) Medium Taxpayer Office(4) Medium Taxpayer Office(4) Medium Taxpaye r Office(4) Medium Taxpayer Office(4) Medium Taxpayer Office(4)
Medium Taxpayer Office(4) Director-01-657585, Deputy Director -09-891493590
Fax-01-657582,01-657587,Gmail;mediumtaxpayeroffice4@gmail.com

M.0170
13/2/2020

အကြောင်းအရာ။ အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး(၄) နှင့် ဆက်သွယ်ဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀.၁.၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက-၂/၁/၂၀၂၀(၀၂၄)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Dongfeng Motor Corporation Limited သည် ၂၇.၈.၂၀၁၉ ရက်နေ့တွင် ကုမ္ပဏီမှတ်ပုံတင်အမှတ်-121892944 ဖြင့် တည်ထောင်ထားသည့် ကုမ္ပဏီဖြစ်ပြီး ရှယ်ယာအစု ၁၀၀,၀၀၀/-စု ၁၀၀ စုဖြင့် ကျပ်သိန်း ၁၀၀၀/-စတင်မတည်ထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၂။ Dongfeng Motor Corporation Limited သည် သီလဝါစက်မှုဇုန်တွင် မြေဧက ၁.၉၃၂ ဧက မြေတန်ဖိုးကျပ်သိန်း ၁၃,၄၅၀/- ဝယ်ယူထားမှုနှင့်ပတ်သက်၍ ရည်ညွှန်းပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂/၂၀၂၀) အစည်းအဝေးတွင် အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး(၄)၊ ဌာနမှူးမှ ဝယ်သည့်မြေကွက်တန်ဖိုးအား စိစစ်ရာတွင် ကျပ်သိန်းပေါင်း ၁၃,၄၅၀/- ဖြင့် ဝယ်ယူထားကြောင်းတွေ့ရှိရသဖြင့် ကုမ္ပဏီ၏ပိုင်ဆိုင်မှုမှာ ကျပ်သိန်း ၁၀၀၀/- သာ ရှိသောကြောင့် အစုရှယ်ယာထည့်ဝင်မှု စနစ်တကျဖြစ်စေရေး ကြိုတင်ပြင်ဆင်ပေးရန်လိုအပ်မည်ဖြစ်ကြောင်း၊ အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး(၄)နှင့် ဆက်သွယ်ဆောင်ရွက်၍ အခွန်ထမ်းအဖြစ် မှတ်ပုံတင်ပေးရန် လျှောက်ထားရမည်ဖြစ်ကြောင်း၊ ယခုလက်ရှိ ၂၀၁၉ ခုနှစ် ပြည်ထောင်စု၏အခွန်အကောက်ဥပဒေအရ ဝင်ငွေရလမ်းမဖော်ပြနိုင်သည့်ဝင်ငွေဖြစ်ပါက သက်သာသော နှုန်းထားဖြင့် ခံစားနိုင်မည်ဖြစ်ပြီး ၁.၁၀.၂၀၂၀ ရက်နေ့နောက်ပိုင်းတွင် ဝင်ငွေခွန်ဥပဒေအရ ၃၀% အခွန်ပေးဆောင်ရမည်ဖြစ်ကြောင်း အခွန်ဆိုင်ရာကိစ္စရပ်များ ရှင်းလင်းထားရန်လိုအပ်ကြောင်း ဆွေးနွေးပြောကြားခဲ့ပြီးဖြစ်ပါသည်။

D. 0205
11.2.2020

၃။ သို့ဖြစ်ပါ၍ Dongfeng Motor Corporation Limited အနေဖြင့် ကုမ္ပဏီ၏အခွန်ဆိုင်ရာကိစ္စရပ်များ ရှင်းလင်းဆောင်ရွက်နိုင်ရန် အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး (၄) တွင် အခွန်

ထမ်းအဖြစ်တင်ပြလျှောက်ထားရမည်ဖြစ်ပါသဖြင့် လာရောက်ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် ညွှန်ကြားနိုင်း အကြောင်း ကြားအပ်ပါသည်။

( ဝ္ဂန်စိန်ဂီ )

ဥက္ကဋ္ဌ

Dongfeng Motor Corporation Limited

အမှတ် - ၃၉ ၊ ၉ ရပ်ကွက်၊ ဝေဇယန္တာလမ်း၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ ပတခ / အလခ-၄ / စီမံ / ၂၀၂၀ ( ၀၅၂ )

ရက် စွဲ ၊ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီ လ ၁၀ ရက်

မိတ္တူကို

- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့၊ ရန်ကုန်မြို့
- ရုံးလက်ခံ
- မျှောစာတွဲ




# Dongfeng Motor Corporation Limited

No. (39), Waizayantar Road, (9) Quarter, South Okkalapa Township, Yangon, Myanmar.
Contact: +9595101717, +9595020621
Email: DongfengMotorCorporationLtd@gmail.com


သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

M.0190
17/2/2020

စာအမှတ်။ ။ ဒီအမ်စီ ၀၀၂၆ / ၂၀၂၀

ရက်စွဲ။ ။ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ( ၁၅ ) ရက်

အကြောင်းအရာ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်အား သိရှိလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း အစီရင်ခံတင်ပြခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စာအမှတ်၊မရက-၃/ခ-၀၆၅ /၂၀၂၀ (၀၄၁)/ ၂၈ - ၀၁- ၂၀၂၀ ရက်စွဲပါစာ

၁။ ကျွန်တော်များ Dongfeng Motor Corporation Limited အားအထက်ရည်ညွှန်းချက်ပါစာဖြင့် အောက်ပါအချက်များအား လိုက်နာဆောင်ရွက်ရန် ညွှန်ကြားလာခဲ့ပါသည်။

(က) လုပ်ငန်းကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်၊ ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု Corporate Social Responsibility – CSR အတွက် အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်း ကတိကဝတ်များကို လိုက်နာဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) ကိုပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၉၊ ၆၁၊ ၄၅၊ ၄၆ တို့အရ EIA မစတင်မည်အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်။

(ဂ) အပိုဒ်၄၇ မှ အပိုဒ်၅၄ အရနယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီအရင်ခံစာနှင့်ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်။

(ဃ) အတည်ပြုပြီး သောနယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီအရင်ခံစာပါ အချက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃)ပါ အချက်များနှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီအရင်ခံစာ (EIA) ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်။

(င) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(စ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့် အညီလိုက်နာ ဆောင်ရွက်ရန်။

၂။ သို့ဖြစ်ပါ၍ ကျွန်တော်များ Dongfeng Motor Corporation Limited မှညွှန်ကြားချက်များအပေါ် သိရှိလိုက်နာဆောင်ရွက်ပါမည်ဖြစ်ကြောင်း လေးစားစွာဖြင့် အစီရင်ခံတင်ပြအပ်ပါသည်။

AYE MIN HTUN
Managing Director
Dongfeng Motor Corporation LTD





# Dongfeng Motor Corporation Limited

No. (39), Waizayantar Road, (9) Quarter, South Okkalapa Township, Yangon, Myanmar.
Contact: +9595101717, +9595020621
Email: DongfengMotorCorporationLtd@gmail.com


သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

M.0189
17/2/2020

စာအမှတ်။ ။ ဒီအမ်စီ ၀၀၂၈ / ၂၀၂၀

ရက်စွဲ။ ။ ၂၀၂၀ ပြည့်နှစ် ၊ ဖေဖော်ဝါရီလ ( ၁၅ ) ရက်

အကြောင်းအရာ။ **စီမံကိန်း ၊ ဘဏ္ဍာရေး နှင့် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား သိရှိလိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း အစီရင်ခံတင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စာအမှတ်၊မရက-၃/ခ-၀၆၅ /၂၀၂၀ (၀၅၆)/ ၁၃ - ၀၂-၂၀၂၀ ရက်စွဲပါစာ

၁။ ကျွန်တော်များ Dongfeng Motor Corporation Limited အားအထက်ရည်ညွှန်းချက်ပါစာဖြင့် အောက်ပါအချက်များအား လိုက်နာဆောင်ရွက်ရန် ညွှန်ကြားလာခဲ့ပါသည်။

(က) ပဥ္စမနှစ်နောက်ပိုင်းတွင် ဆေးသုတ်မထားသည့် ကိုယ်ထည် (White Body) အားပြည်တွင်း၌ထုတ်လုပ်မည်ဖြစ်၍ အသေးစိတ်အစီအမံများတင်ပြရန်။

(ခ) မြန်မာနိုင်ငံ မော်တော်ယာဉ် ထုတ်လုပ်မှုဆိုင်ရာမူဝါဒ (Automotive Policy) နှင့် အညီလိုက်နာဆောင်ရွက်ရန်။

(ဂ) နည်းပညာရရှိမှုနှင့် CKD အထိမျှော်မှန်းဆောင်ရွက်မည့်အစီအစဉ်များနှင့်ကာလရှည်အတွက်ရည်ရွယ်ဆောင်ရွက် ရန်။

(ဃ) ထုတ်လုပ်မည့်မော်တော်ယာဉ်များသည် နိုင်ငံအတွင်းလိုအပ်ချက်များနှင့်ကိုက်ညီ၍နည်းပညာအဆင့်မီ ဘေးကင်း လုံခြုံမှုရှိစေရေး အဓိကထား ဆောက်ရွက်ရန်၊ မူရင်းကုမ္ပဏီ၏ဒီဇိုင်းနှင့် အရည်အသွေးများ အတိုင်းအာမခံရန်၊ သတ်မှတ်စံနှုန်းနှင့်ကိုက်ညီသည့် ကုန်ကြမ်းပစ္စည်းများဖြစ်စေရေး တာဝန်ယူဆောင်ရွက်ရန်။

(c) Testing and Quality Control စနစ်တိတိကျကျစီစစ်၍ ဆောင်ရွက်ရန်။

၂။ သို့ဖြစ်ပါ၍ ကျွန်တော်များ Dongfeng Motor Corporation Limited မှညွှန်ကြားချက်များအပေါ် သိရှိလိုက်နာဆောင်ရွက် ပါမည်ဖြစ်ကြောင်း လေးစားစွာဖြင့် အစီရင်ခံတင်ပြအပ်ပါသည်။

AYE MIN HTUN
Managing Director
Dongfeng Motor Corporation LTD



# Dongfeng Motor Corporation Limited

No. (39), Waizayantar Road, (9) Quarter, South Okkalapa Township, Yangon, Myanmar.
Contact: +9595101717, +9595020621
Email: DongfengMotorCorporationLtd@gmail.com

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

M.0191
17/2/2020

စာအမှတ်၊ ။ ဒီအမ်စီ ၀၀၂၇ / ၂၀၂၀

ရက်စွဲ၊ ။ ၂၀၂၀ ပြည့်နှစ် ၊ ဖေဖော်ဝါရီလ ( ၁၅ ) ရက်

အကြောင်းအရာ။ **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏သဘာထားမှတ်ချက်အားသိရှိလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း အစီရင်ခံတင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စာအမှတ်၊မရက-၃/ခ-၀၆၅ /၂၀၂၀ (၀၇၃)/ ၀၇ - ၀၂- ၂၀၂၀ ရက်စွဲပါစာ

၁။ ကျွန်တော်များ Dongfeng Motor Corporation Limited အားအထက်ရည်ညွှန်းချက်ပါစာဖြင့် အောက်ပါအချက်များအား လိုက်နာဆောင်ရွက်ရန် ညွှန်ကြားလာခဲ့ပါသည်။

(က) ASEAN Motor Vehicle Requirement Standard နှင့်အညီထုတ်လုပ်ရန်။

(ခ) လက်ဝဲဘက်စတီယာရင်မောင်းစနစ် (LeFt Hand Drive) ယာဉ်များသာထုတ်လုပ်ရန်။

(ဂ) ထုတ်လုပ်မည့်မော်တော်ယာဉ်၏ အမျိုးအမည်၊ အမျိုးအစားအတွက်ပုံစံအတည်ပြု သတ်မှတ်ချက်ရရှိပြီးဖြစ်ရန်နှင့် ထုတ်လုပ်မည့်မော်တော်ယာဉ်နှင့် ပတ်သတ်သည့် Specification များပြည့်စုံစွာဖော်ပြရန်။

(ဃ) မော်တော်ယာဉ်စမ်းသပ်စစ်ဆေးသည့်အလုပ်ရုံ (Vehicle Testing Workshop) တွင်ရှိသော Test Lane ဖြင့်ယာဉ်ကြံ့ခိုင်မှုစစ်ဆေးပြီး အောင်မြင်သည့်ယာဉ်များကိုသာဈေးကွက်အတွင်းသို့ ဖြန့်ဖြူးရောင်းချရန်။

(င) စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာနက ထုတ်ပေးသည့် Certificate of Approval (CoA) ဖြင့် ကနဦး မှတ်ပုံတင်ဆောင်ရွက်ပေးရန်နှင့် အစီး (၁၀၀)ပြည့်မြောက်ပြီးနောက် ပုံမှန်ဆက်လက်ထုတ်ပေးသည့် မော်တော်ယာဉ်များကို သက်ဆိုင်ရာ ကုမ္ပဏီ၏ Inspection Certificate (IC) ဖြင့်သာ ဆက်လက်ဆောင်ရွက်ရန်။

(စ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ ကုန်းလမ်းပို့ဆောင်ရေး ညွှန်ကြားမှုဦးစီးဌာနတွင် SKD စနစ်ဖြင့် ထုတ်လုပ်သည့် မော်တော်ယာဉ်များကို ကနဦးမှတ်ပုံတင်လုပ်ငန်း ဆောင်ရွက်မည်ဆိုပါက မူရင်းကုမ္ပဏီ၏ Letter of Authorization, Quality Control(QC), Vehicle Identification (VIN Plate) နှင့် နှစ်ဘက်အင်ဂျီနီယာများ၏ Inspection Certificate စသည့် အထောက်အထားများ တင်ပြရန်။

၂။ သို့ဖြစ်ပါ၍ ကျွန်တော်များ Dongfeng Motor Corporation Limited မှညွှန်ကြားချက်များအပေါ် သိရှိလိုက်နာဆောင်ရွက် ပါမည်ဖြစ်ကြောင်း လေးစားစွာဖြင့် အစီရင်ခံတင်ပြအပ်ပါသည်။

AYE MIN HTUN
Managing Director
Dongfeng Motor Corporation LTD